


# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်




ခွင့်ပြုမိန့် အမှတ်၊မနသ- ၁၁၆၈/၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ် လ ၂၆ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးဝင်းနိုင်ထွန်း

(ခ) **အဘ အမည်** ဦးထွန်းနိုင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၉/မရမ(နိုင်)၀၀၅၆၄၀

(ဃ) **နေရပ်လိပ်စာ** အမှတ်(ဒီ)၊ ကန်လမ်း၊ အမှတ်(၁၀) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Pacific Bold Paragon Group Co., Ltd. (ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** စကျင်ကျောက်ပြား၊ စကျင်ကျောက်မှုန့်နှင့် ပွတ်လုံးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မန္တလေးတိုင်းဒေသကြီး၊ မတ္တရာမြို့နယ်၊ စကျင်ကျေးရွာ၊ ကမ္ဘတောင်၊ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်းပိုင် စကျင်ကျောက်ပြားစက်ရုံ ရှိ မြေ ၃၆၀.၂၇ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း ၁၈၄၄.၈၅၀ (US$ ၀.၅၂၉ သန်း အပါအဝင် ကျပ် တစ်ထောင့်ရှစ်ရာ လေးဆယ့်လေးသန်း ရှစ်သိန်း ငါးသောင်းတိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ်

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၃၅ နှစ်

၂၆/၃

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်



ကန့်သတ်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၇၀ / ၂၀၁၆(မနသ)
၂၀၁၆ ခုနှစ် မတ်လ ၂၆ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Pacific Bold Paragon Group Company Limited [ပစိဖိတ်ထင်ရှားစံအုပ်စုကုမ္ပဏီလီမိတက်]သည် မန္တလေးတိုင်းဒေသကြီး၊ မတ္တရာမြို့နယ်၊ စကျင်ကျေးရွာ၊ ကမ္ဘတောင်၊ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂) အကြီးစားစက်မှု လုပ်ငန်းပိုင် စကျင်ကျောက်ပြားစက်ရုံခွဲ ရှိ မြေဧရိယာ ၃၆၀.၂၇ ဧက (၁၄၅၇၉၆၂.၂၅၂ စတုရန်းမီတာ) အကျယ်အဝန်းရှိသော မြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများအားငှားရမ်း၍ စကျင်ကျောက်ပြား၊ စကျင်ကျောက်မှုန့်နှင့် ပွတ်လုံး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၁၈-၃-၂၀၁၆) နေ့တွင်ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၀/၂၀၁၆)ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Pacific Bold Paragon Group Company Limited [ပစိဖိတ်ထင်ရှားစံအုပ်စုကုမ္ပဏီလီမိတက်]အား စကျင်ကျောက်ပြား၊ စကျင်ကျောက်မှုန့်နှင့် ပွတ်လုံး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊မနသ- ၁၁၆၈/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ Pacific Bold Paragon Group Company Limited [ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက်]အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

ကန့်သတ်

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ)ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ)ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ ၂၀(ဠ)အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Pacific Bold Paragon Group Company Limited [ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီ လီမိတက်] သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Pacific Bold Paragon Group Company Limited [ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီ လီမိတက်]သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ Pacific Bold Paragon Group Company Limited [ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီ လီမိတက်]သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သောစက်မှုဝန်ကြီးဌာန၊အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းပိုင်စကျင်ကျောက်ပြား စက်ရုံခွဲအား ငှားရမ်းဆောင်ရွက်သည့် ဒုတိယအကြိမ် ပြင်ဆင်သည့် သဘောတူစာချုပ်ပါ စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ ၁-၁၀-၂၀၁၁ နေ့မှစ၍ (၂၅)နှစ်နှင့် သက်တမ်းတိုးမြှင့် ငှားရမ်းလိုပါက တစ်ကြိမ်လျှင် (၅)နှစ်စီ ဖြင့် (၂)ကြိမ် ဖြစ်ပါသည်။ ထိုသို့ စာချုပ် သက်တမ်းကာလတိုးမြှင့်ခြင်းအား ကော်မရှင်သို့တင်ပြ၍ ခွင့်ပြုချက်ရရှိပြီး မှသာ အတည်ဖြစ်သည်။

၈။ Pacific Bold Paragon Group Company Limited [ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီ လီမိတက်]သည် စက်ရုံ၊ မြေနှင့် အဆောက်အဦများ၏ ငှားရမ်းခနှုန်းထားအဖြစ် တစ်နှစ်လျှင် ကျပ် ၇၆,၀၀၀,၀၀၀ (ကျပ်ခုနစ်ဆယ့်ခြောက်သန်းတိတိ)အား စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်းသို့ ပေးသွင်းရ မည်။

၉။ Pacific Bold Paragon Group Company Limited [ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက်]သည် အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် စကျင်ကျောက်ပြားစက်ရုံခွဲ၊ ကမ္ဘတောင်၊ စကျင်ကျေးရွာ၊ မတ္တရာမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးကို အငှားချထားသူ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်း နှင့် အငှားချထားခြင်းခံရသူ Pacific Bold Paragon Group Company Limited [ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက်]တို့ ချုပ်ဆိုမည့် စကျင်ကျောက်ပြားစက်ရုံခွဲအား ငှားရမ်းဆောင်ရွက်သည့် ဒုတိယအကြိမ် ပြင်ဆင်သည့် သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များအား ဆောင်ပြီးသည့်အခါ ယင်းသဘော တူစာချုပ်မိတ္တူ(၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက်ပေးပို့ တင်ပြရမည်။

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၁၁။ Pacific Bold Paragon Group Company Limited [ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက်]သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေး တို့အတွက် (Environmental Impact Assessment - EIA) ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံ ရမည်။

၁၂။ Pacific Bold Paragon Group Company Limited [ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက်]သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက် ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၃။ Pacific Bold Paragon Group Company Limited [ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက်] သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ် စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ထို့ပြင် ရေသိုလှောင် ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်

ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်း များပေးရမည်။

၁၄။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၅။ Pacific Bold Paragon Group Company Limited [ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက်]သည် ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ မန္တလေးတိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၆။ Pacific Bold Paragon Group Company Limited [ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက်]သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထား သော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၈။ Pacific Bold Paragon Group Company Limited [ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက်] သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ

ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၂၆/၂

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၃ / မ-၁၂၂၅ / ၂၀၁၆ ( ၄၆၆-၈၇ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၆ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ Pacific Bold Paragon Group Company Limited [ပစိဖိတ်ထင်ရှားစံ အုပ်စု ကုမ္ပဏီ လီမိတက်]

ကုမ္ပဏီအမည်။ ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက်

လုပ်ငန်း ။ စကျင်ကျောက်ပြား၊ ကျောက်မှုန့်နှင့် ပွတ်လုံး ထုတ်လုပ်ခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၄-၇-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၉-၇-၂၀၁၅ | ၉-၉-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၉-၇-၂၀၁၅ | ၁၁-၈-၂၀၁၅ | |
| | (ဂ)စက်မှုဝန်ကြီးဌာန | ၂၉-၇-၂၀၁၅ | ၂-၉-၂၀၁၅ | |
| | (ဃ)သတ္တုတွင်းဝန်ကြီးဌာန | ၂၉-၇-၂၀၁၅ | ၂၅-၃-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂၅/၂၀၁၅) သို့အစည်းအဝေး တင်ပြခြင်း | ၂၀-၇-၂၀၁၅ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာပေးပို့ခြင်း | ၂၁-၇-၂၀၁၅ | | |
| ၅ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် ကုမ္ပဏီသို့ အကြောင်းကြားခြင်း | ၂၉-၇-၂၀၁၅ | | |
| ၆ | ကုမ္ပဏီသို့အဆိုပြုလွှာပြန်လည်ပေးပို့ခြင်း | ၁၃-၁၀-၂၀၁၅ | | |
| ၇ | ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်ပြီး အဆိုပြုလွှာ (၁၀)စုံ ပေးပို့ခြင်း | ၉-၃-၂၀၁၆ | | |
| ၈ | မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ လုပ်ငန်းသက်တမ်းအပေါ် သဘောထား ပြန်ကြားခြင်း | | ၁၃-၁-၂၀၁၆ | |
| ၉ | ဥက္ကဋ္ဌလမ်းညွှန်ချက်အရ စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံခြင်း | ၂၇-၂-၂၀၁၆ | ၃-၃-၂၀၁၆ | |
| | စုစုပေါင်းကြာမြင့်ရက် | (၂၃၈)ရက် | | |

မှတ်ချက်။ လုပ်ငန်းဆောင်ရွက်မည့်နေရာနှင့် လုပ်ငန်းသက်တမ်းအပေါ် မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့မှ မှတ်ချက်ပြန်ကြားခဲ့ခြင်းအပေါ် ကော်မရှင်ဥက္ကဋ္ဌထံ လမ်းညွှန်မှုခံယူခဲ့ပြီး စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် ထပ်မံတောင်းခံခဲ့ပါသည်။ စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ရရှိမှသာ ကော်မရှင်အစည်းအဝေးသို့ တင်ပြရခြင်းဖြစ်ပါသည်။

အကြောင်းအရာ။ **ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက် မှ စကျင်ကျောက်ပြား၊ ကျောက်မှုန့်နှင့် ပွတ်လုံးထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက် (Pacific Bold Paragon Group Co.,Ltd.) ဦးဝင်းနိုင်ထွန်း(အဘ ဦးထွန်းနိုင်) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ |
| | လုပ်ငန်းအမျိုးအစား | - စကျင်ကျောက်ပြား၊ စကျင်ကျောက်မှုန့်နှင့် ပွတ်လုံး ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - စက်မှုဝန်ကြီးဌာန၊အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ စကျင်ကျောက်ပြားစက်ရုံ၊ မန္တလေးတိုင်း ဒေသကြီး၊ မတ္တရာမြို့နယ်၊ စကျင်ကျေးရွာအနီး၊ မတ္တရာမြို့မှ ၁၂ မိုင်ခန့်အကွာ ကမ္ဘတောင် |
| | မြေပိုင်ရှင် | - စက်မှုဝန်ကြီးဌာန |
| | မြေအကျယ်အဝန်း | - ၃၆၀.၂၇ ဧက (၁,၄၅၇,၉၆၂.၂၅၂ စတုရန်းမီတာ) |
| ၃။ | နှစ်စဉ်မြေနှင့် အဆောက်အဦး ငှားရမ်းခ | - ကျပ် ၇၆ သန်း |
| | မြေငှားသက်တမ်း | - ၂၅ နှစ် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် (၁-၁၀-၂၀၁၁ နေ့မှစ၍) |
| ၄။ | လုပ်ငန်းသက်တမ်း | - ၂၅ နှစ် သက်တမ်းတိုး ၅ နှစ် ၂ ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁၈၄၄.၈၅၀ သန်း(အမေရိကန်ဒေါ်လာ ၀.၅၂၉ သန်း အပါအဝင်) |
| | ထည့်ဝင်သည့်အမျိုးအစား | **ကျပ်(သန်း)** |
| | ငွေသား | ၃၃၁.၂၆ |
| | စက်ပစ္စည်းတန်ဖိုး | ၉၈၅.၂၂ (US$၀.၅၂၉သန်းအပါအဝင်) |
| | မြေနှင့် အဆောက်အဦတန်ဖိုး | ၁၃၀.၀၀ |
| | အခြားလုပ်ငန်းသုံးပစ္စည်းများ | ၃၉၈.၃၇ |
| | စုစုပေါင်း | **၁၈၄၄.၈၅(US$၀.၅၂၉သန်းအပါအဝင်)** |
| ၆။ | ပြည်တွင်း | - ၄၀၈ဦး (ပြည်တွင်းအနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁၄၀,၀၀၀နှင့် အမြင့်ဆုံးဝန်ထမ်း တစ်ဦး၏လစာမှာကျပ် ၂၈၀,၀၀၀) - ပြည်တွင်းဝန်ထမ်း ၄၀၈ ဦး တွင်စက်မှုဝန်ကြီးဌာနမှ လွှဲယူ ထားသောဝန်ထမ်း၁၆၈ ဦး ပါဝင်ပါသည်။ |

| | | |
|---|---|---|
| ၇။ | ရောင်းချမည့်စနစ် | - ပြည်တွင်းတွင် ၅၀% နှင့် ပြည်ပသို့ ၅၀% ရောင်းချမည် ဖြစ်ပါသည်။ |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဌမနှစ်) | - ကျပ် ၄၁၇၉.၀၆ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ်(ဆဌမနှစ်) | - ကျပ် ၃၇၄၃.၄၅ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဌမနှစ်) | - ကျပ် ၄၃၅.၆၁ သန်း |
| | | - အမေရိကန်ဒေါ်လာ ၁ ဒေါ်လာလျှင် မြန်မာငွေ ၁၀၀၀ ကျပ် နှုန်း ဖြင့် တွက်ချက်ထားပါသည်။ |
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်(ဆဌမနှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၁၄၅.၀၀ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၄၆.၂၆ သန်း |
| | အရင်းကြေကာလ | - ၃ နှစ် ၇ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၅% |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်) | - ၁,၂၀၀,၀၀၀ kWh |
| ၁၁။ | ထုတ်လုပ်မှုနှင့် ရောင်းချမည့် ဈေးနှုန်း (၆နှစ်မြောက်) | |

| **အမျိုးအစား** | **ထုတ်လုပ်မှု** | | **ရောင်းဈေး** | |
|---|---|---|---|---|
| | ပြည်တွင်း ၅၀% | ပြည်ပ ၅၀% | ပြည်တွင်း (ကျပ်) | ပြည်ပ (US$) |
| အခင်းကျောက်ပြား(sqft) | ၂၀၇,၅၀၀ | ၂၀၇,၅၀၀ | ၂,၇၅၀ | ၄.၂၅ |
| ကျောက်မှုန့်(MT) | ၆,၀၀၀ | ၆,၀၀၀ | ၅၀,၀၀၀ | ၇၅.၀၀ |
| ပွတ်လုံး(ခုရေ) | ၁,၆၈၀ | ၁,၆၈၀ | ၃၂,၅၀၀ | ၄၂.၅၀ |

| | | |
|---|---|---|
| ၁၂။ | အခြား | - Pacific Bold Paragon Group Co., Ltd. သည် ၁-၃-၂၀၁၂ ရက်စွဲဖြင့် ကုမ္ပဏီအဖြစ် မှတ်ပုံတင်အမှတ် ၄၁၇၇/ ၂၀၁၁-၂၀၁၂ ဖြင့် ဖွဲ့စည်းမှတ်ပုံတင်ထားသည့် အထောက်အထား၊ ၂၉-၄-၂၀၁၅ ရက်စွဲဖြင့် သက်တမ်းတိုးထားသည့် အထောက်အထား၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းများ၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ နိုင်ငံသား စိစစ်ရေးကတ်ပြား မိတ္တူများ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - Pacific Bold Paragon Group Co., Ltd. မှ ဒါရိုက်တာ ဦးအောင်နိုင်ဦး အမည်ဖြင့် ငွေကြေး အထောက်အထား အဖြစ် ကမ္ဘောဇဘဏ် (မန္တလေး ဘဏ်ခွဲ-၃)တွင် ၁၂-၅-၂၀၁၅ ရက်စွဲဖြင့် မြန်မာ ငွေကျပ် ၁,၀၂၀,၅၅၇.၈၉ ရှိကြောင်း တင်ပြထားပါသည်။<br>- Pacific Bold Paragon Group Co., Ltd. နှင့် မြေပိုင်ရှင် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်းတို့ ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ လုပ်ငန်း တည်နေရာပြ မြေပုံနှင့် မြေငှားစာချုပ် ပေါ်တွင် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက် တို့အား တင်ပြထားပါသည်။<br>- စက်မှုဝန်ကြီးဌာနမှ လွှဲပြောင်းယူမည့် အဆောက်အဦ နှင့် စက်ပစ္စည်းစာရင်းများ၊ ထပ်မံတည်ဆောက်မည့် အဆောက်အဦ Layout Plan များ တင်ပြထား ပါသည်။<br>- ထုတ်လုပ်မည့်နည်းစဥ်၊ ထုတ်လုပ်မည့် ကျောက်ပြား နမူနာဓာတ်ပုံများ၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံ ချက်၊ ဝန်ထမ်း သက်သာချောင်ချိရေးအစီအစဉ်၊ အသားတင်အမြတ်၏ ၂%အားCSR အဖြစ် အသုံးပြုမည့် အစီအစဉ်နှင့် ပတ်ဝန်းကျင်ထိခိုက်မှု ကာကွယ်ရေး အစီအစဉ်များအား တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထား လာပါသည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - စကျင်ကျောက်ပြား၊ ကျောက်မှုန့်နှင့် ပွတ်လုံးထုတ်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | - စကျင်ကျောက်ပြားစက်ရုံ၊ စကျင်ကျေးရွာအနီး၊ မတ္တရာမြို့နယ်၊ မန္တလေးတိုင်းဒေသကြီး(မတ္တရာမြို့မှ ၁၂ မိုင်ခန့်အကွာ) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁၈၄၄.၈၅၀ သန်း (US$ ၀.၅၂၉ သန်းအပါအဝင်) |
| ရောင်းချမည့်စနစ် | - ပြည်တွင်း ၅၀%၊ ပြည်ပ ၅၀% ရောင်းချမည်ဖြစ်ပါသည်။ |
| လုပ်ငန်းသက်တမ်း | - ကနဦး ၂၅နှစ် (၅ နှစ် ၂ကြိမ် သက်တမ်းတိုး) |
| အရင်းကြေကာလ | - ၃နှစ် ၇ လ |
| IRR | - ၂၅ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၃.၀၀ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၃၇.၀၀ | |
| ၄ | ဝင်ငွေခွန် | ၅၆၈.၁၀၆ | ၁၆၄၈.၈၁၄ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၄၆၄.၁၃၉ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း နှစ်ဆယ်ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း(၈)ဦး |
| ၇ | CSR (၂%) | - | ၈၀ |
| ၈ | မြေငှားရမ်းခရငွေ | | ၅၃၂ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း (၄၀၈) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။ |
| | စုစုပေါင်း | ကျပ် ၆၀၈.၁၀၆ သန်း | ကျပ် ၂၇၂၆.၁၁၈ သန်း |
| | Cost : Benefit | ၁ : ၅ | |

**ကန့်သတ်**

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ရကေ-၃/မ-၁၂၂၅ / ၂၀၁၆( ၃၈၆ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၀ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက် (Pacific Bold Paragon Group Co.,Ltd.)မှ စကျင်ကျောက်ပြား၊ ကျောက်မှုန့်နှင့် ပွတ်လုံးထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစား စက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ စကျင်ကျောက်ပြားစက်ရုံခွဲ၊ မန္တလေးတိုင်းဒေသကြီး၊ မတ္တရာမြို့နယ်၊ စကျင်ကျေးရွာအနီးရှိ မြေဧရိယာ ၃၆၀.၂၇ ဧက (၁၄၅၇၉၆၂.၂၅၂ စတုရန်းမီတာ) ပေါ်တွင် စကျင် ကျောက်ပြား၊ ကျောက်မှုန့်နှင့် ပွတ်လုံးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဝင်းနိုင်ထွန်း(အဘ-ဦးထွန်းနိုင်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ စက်မှုဝန်ကြီးဌာနမှ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်းဆောင်ရွက်ခွင့်အတွက် ပြည်ထောင်စုအစိုးရအဖွဲ့၏ အစည်းအဝေး အမှတ်စဉ် ၂၂/၂၀၁၁ (၁၅-၉-၂၀၁၁) အရ ၅ နှစ် ခွင့်ပြုထားပါသည်။ စက်မှုဝန်ကြီးဌာနမှ ၂၅+၅+၅ ဖြင့်သာဌားရမ်းဆောင်ရွက်သင့်ပါကြောင်းပြန်ကြားထားပါသည်။ ငှားရမ်းသက်တမ်းမှာ ၁-၁၀-၂၀၁၁ နေ့တွင် စတင်သည့်အတွက် လက်ကျန်သက်တမ်း ၂၀နှစ်ခန့်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ မှာ ၂ နှစ် ဖြစ်ပါသည်။ နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ မြေဧရိယာ ၃၆၀.၂၇ ဧက (၁,၄၅၇,၉၆၂.၂၅၂ စတုရန်းမီတာ) အတွက် ကျပ် ၇၆ သန်း ဖြစ်ပါသည်။ အဆိုပြုချက် နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၅၂၉)သန်း အပါအဝင် စုစုပေါင်း ကျပ်(၁၈၄၄.၈၅၀)သန်းဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| တည့်ဝင်သည့်အမျိုးအစား | ကျပ်(သန်း) |
|---|---|
| ငွေသား | ၃၃၀.၂၆ |
| စက်ပစ္စည်းကိရိယာများတန်ဖိုးပမာဏ (ပြည်ပ) | ၉၈၅.၂၂ (US$၀.၅၂၉အပါအဝင်) |

| | |
|---|---|
| မြေနှင့်အဆောက်အဦတန်ဖိုး | ၁၃၀.၀၀ |
| လုပ်ငန်းသုံးပစ္စည်း | ၃၉၈.၃၇ |
| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **၁၈၄၄.၈၅ (US$၀.၅၂၉အပါအဝင်)** |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း ၄၀၈ ဦး ခန့်ထားမည် ဖြစ်ပြီး ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁၄၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၂၈၀,၀၀၀ ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း ၄၀၈ ဦး တွင်စက်မှုဝန်ကြီးဌာနမှ လွှဲယူထားသောဝန်ထမ်း၁၆၈ ဦး ပါဝင်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော ကုန်ချောများကို ပြည်တွင်းတွင် ၅၀% နှင့် ပြည်ပသို့ ၅၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ထုတ်လုပ်မှုနှင့် ရောင်းချမည့်ဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| အမျိုးအမည် | ရေတွက်ပုံ | ထုတ်လုပ်မှု အရေအတွက် | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|---|
| | | ပြည်တွင်း ၅၀% | ပြည်ပ ၅၀% | ပြည်တွင်း (ကျပ်) | ပြည်ပ (US$) |
| အခင်းကျောက်ပြား | sqft | ၂၀၇,၅၀၀ | ၂၀၇,၅၀၀ | ၂,၇၅၀၀ | ၄.၂၅ |
| ကျောက်မှုန့် | MT | ၆,၀၀၀ | ၆,၀၀၀ | ၅၀,၀၀၀ | ၇၅.၀၀ |
| ပွတ်လုံး | ခုရေ | ၁,၆၈၀ | ၁,၆၈၀ | ၃၂,၅၀၀ | ၄၂.၅၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄၁၇၉.၀၆ |
| (ခ) | အသုံးစရိတ် | ၃၇၄၃.၄၅ |
| (ဂ) | အသားတင် အမြတ် | ၄၃၅.၆၁ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၄၅.၀၀၀ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၄၆.၂၆၁ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေ ကာလမှာ ၃နှစ် ၇ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၂၅%ဖြစ်ပါသည်။ အမေရိကန် တစ်ဒေါ်လာလျှင် ၁၀၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၈။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ စက်မှုဝန်ကြီးဌာနနှင့် သတ္တုတွင်းဝန်ကြီးဌာနတို့သို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့**မှ စက်မှုဝန်ကြီးဌာနနှင့် ပစိဖိတ်ထင်ရှားစံအုပ်စုကုမ္ပဏီလီမိတက်တို့ကြား ချုပ်ဆိုထားသည့် သက်တမ်းသည် (၃၀-၁၀-၂၀၂၁) ရက်နေ့ရောက်မှသာ သက်တမ်းကုန်မည်ဖြစ်ရာ သက်တမ်းမကုန်မီ ကြိုတင် စဉ်းစားပေးရန် မသင့်တော်ကြောင်းနှင့် အခြေအနေအရပ်ရပ်ပေါ်မူတည်၍ စဉ်းစားဆောင်ရွက်သင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်းလိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုများ လျော့နည်းစေရန် လုပ်ငန်းအဆင့်ဆင့်အတွက် စီမံကိန်းဆိုင်ရာအချက် အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် စက်ပစ္စည်းများနှင့် နည်းလမ်းအစီအမံများ၊ ဂေဟစနစ် ထိခိုက်မှုအား လျော့နည်း သက်သာစေမည့် နည်းလမ်းများ ထည့်သွင်း ဆောင်ရွက်ရန်။

(၂) စီမံကိန်းစတင် တည်ထောင်သည့် အချိန်မှစ၍ ပြီးစီးသည့် အချိန်အထိ ပတ်ဝန်းကျင်နှင့် သဟဇာတဖြစ်သည့် ဆောင်ရွက်ထားရှိမှုများ၊ လုပ်ငန်းခွင်လုံခြုံမှုရှိစေရေးအတွက် စီမံချက်၊ ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်များ၊ လုပ်ငန်းခွင်အတွင်း စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု၊ ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၃) စီမံကိန်းဝန်းကျင် ဒေသခံပြည်သူများ၏ လူမှုဘဝဖွံ့ဖြိုးတိုးတက်ရေးအတွက် လူမှုရေးဆိုင်ရာ ပူးပေါင်းတာဝန်ယူမှု (Corporate Social Responsibility) ဆောင်ရွက်သွားရန်။

(၄) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ပြဌာန်းထားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများ နှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်။ ကုမ္ပဏီမှ Environmental Impact Assessment (EIA), Social Impact Assessment (SIA), Health Impact

Assessment (HIA), Environmental Management Plan (EMP), Corporate Social Responsibility (CSR)နှင့် Mine Closure Plan Report တို့အား တင်ပြထားပါသည်။
နောက်ဆက်တွဲ (ခ)

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်း အသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန်လိုကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုကြောင်းနှင့် တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ကန့်ကွက်ရန် မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။
နောက်ဆက်တွဲ(ဂ)

(ဃ) **သတ္တုတွင်းဝန်ကြီးဌာနမှ** ကုမ္ပဏီသို့ သတ္တုတွင်း ဝန်ကြီးဌာနအနေဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ခြင်းမရှိကြောင်း၊ ယခင် အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ မြန်မာ့ကြွေထည်မြေထည်လုပ်ငန်းသို့ ဓာတ်သတ္တုအကြီးစား ထုတ်လုပ်ရန် ခွင့်ပြုမိန့် ထုတ်ပေးထားသည့် စကျင်ကျောက် လုပ်ကွက်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။
နောက်ဆက်တွဲ(ဃ)

၉။ ငွေကြေးအထောက်အထားအဖြစ် ကမ္ဘောဇဘဏ်၊ မန္တလေးဘဏ်ခွဲ(၃)တွင် ဦးအောင်နိုင်ဦး၊ ဒေါ်အိအိသန့် အမည်ဖြင့်(၁၂-၅-၂၀၁၅)နေ့တွင် ငွေလက်ကျန် ကျပ် ၁,၀၂၀,၅၅၇.၈၉ ကြောင်း အထောက်အထား၊ ပစိဖိတ်ထင်ရှားစံ ကုမ္ပဏီလီမိတက်နှင့် စက်မှုဝန်ကြီးဌာနတို့ မြေနှင့် အဆောက်အဦ ငှားရမ်းခြင်းစာချုပ်(မူကြမ်း)၊ ယင်းစာချုပ်အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်၊ စက်မှုဝန်ကြီးဌာနမှ လွှဲပြောင်းယူမည့် အဆောက်အဦနှင့် စက်ပစ္စည်း စာရင်းများ၊ ထပ်မံတည်ဆောက်မည့် အဆောက်အဦ Layout Plan များ၊ ထုတ်လုပ်ပုံ အဆင့်ဆင့်နှင့် ထုတ်လုပ်မည့်ပစ္စည်း နမူနာဓာတ်ပုံများ၊ ကုမ္ပဏီမှတ်ပုံတင် အထောက်အထား၊ သက်တမ်းတိုးထားသည့် အထောက်အထား၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းများ၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ နိုင်ငံသား စိစစ်ရေးကတ်ပြား မိတ္တူများအား တင်ပြထားပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင်လေထု၊ ရေထုနှင့်မြေထုတို့ ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည် ဖြစ်ပါကြောင်း၊ တစ်နှစ်လျှင် ဝင်ငွေကျပ် ၂၀ သိန်းအထက် ရရှိသော ဝန်ထမ်းများ၏ လစာမှ ဝင်ငွေခွန်ကို ကုမ္ပဏီမှ တာဝန်ယူဖြတ်တောက်၍ အခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။

၁၁။ ဝန်ထမ်းယက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် ဝန်ထမ်းများအား လစာအပြင် ထောက်ပံ့ကြေးပေးခြင်းနှင့် ဝန်ထမ်းများ၏ လုပ်ရည်ကိုင်ရည်အလိုက် ဆုကြေးများ

ပေးခြင်း၊ ဝန်ထမ်းအိမ်ရာများစီစဉ်ပေးခြင်း၊ ဝန်ထမ်းအိမ်ရာများတွင် အရိပ်ရပင်များ၊ ရာသီလိုက်သီးပင်စားပင်များ စိုက်ပျိုးရန်နှင့် ကြက်ဝက်မွေးမြူ၍ အပိုဝင်ငွေရရှိစေရန် ဆောင်ရွက်ပေးခြင်း၊ အပန်းဖြေနိုင်ရန်အတွက် ပန်းခြံငယ်များ၊ အားကစားကွင်းများနှင့် Sky Net TV များ စီစဉ်ပေးခြင်း၊ ဆက်သွယ်ရေးအတွက် အခမဲ့ဖုန်းပြောခြင်းအား အချိန်ကန့်သတ်ဖြင့် ဆောင်ရွက်ပေးခြင်း၊ ဝန်ထမ်းသက်သာဆိုင် ဖွင့်လှစ်ရောင်းချပေးခြင်း၊ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက် ဆေးခန်းဖွင့်လှစ်ပေးခြင်း၊ လူမှုဖူလုံရေး အသင်းသို့လည်း အသင်းဝင်ပေးခြင်းဖြင့် ဝန်ထမ်းအခွင့်အရေး အပြည့်အဝရရှိရေးကို စီစဉ်ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို ကိုယ်ပိုင်မီးစက်များဖြင့် ကုန်ထုတ်လုပ်မှုစဉ်ဆက်မပြတ်စေရေးအတွက် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ ကုမ္ပဏီမှ နှစ်စဉ်အသားတင်အမြတ်၏ ၂%ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility-CSR) အတွက်အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၂၀ ရက်နေ့တွင် ကျင်းပသော ၂၅/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀(က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

**စိစစ်တင်ပြချက်**

၁၆။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းနှင့် ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက် တို့ ချုပ်ဆိုမည့် မြေ၊ အဆောက်အဦနှင့် စက်ကိရိယာများ ငှားရမ်းစာချုပ်ပါ အချက်များမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

- (က) မူလစာချုပ်မှာ အမှတ်(၁) စက်မှုဝန်ကြီးဌာန၊ မြန်မာ့ကြွေထည်မြေထည်လုပ်ငန်း နှင့် ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက်တို့ ၂၀-၉-၂၀၁၁ ခုနှစ်တွင်ချုပ်ဆိုခဲ့ပြီး စာချုပ်သက်တမ်းမှာ ၅ နှစ် ဖြစ်ပါသည်။ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ်၂၂/၂၀၁၁(၁၅-၉-၂၀၁၁) မှ သဘောတူ ခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။
- (ခ) ပထမအကြိမ် ၅ နှစ် မှ ၁၀ နှစ် သို့ သက်တမ်းပြင်ဆင်သတ်မှတ်သည့် စာချုပ်အား ၂၀၁၁ ခုနှစ် ဒီဇင်ဘာလ ၂၁ ရက်နေ့တွင် ချုပ်ဆိုခဲ့ပြီး ၂၀၁၁ ခုနှစ် ဒီဇင်ဘာလ ၁၆ ရက်နေ့တွင် ကျင်းပသော စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီမှ သဘောတူ အတည်ပြုခဲ့ခြင်းဖြစ်ပါသည်။
- (ဂ) ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်အား အမှတ်(၂) အကြီးစားစက်မှုလုပ်ငန်းနှင့် ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက်တို့ချုပ်ဆိုမည့် ၅၀+၁၀+၁၀ နှစ် B.O.T စနစ်ဖြင့် တင်ပြကြောင်း၊ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၇ ရက်နေ့တွင်



DV2

ကျင်းပသော စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၄-၂၀၁၅) ဆုံးဖြတ်ချက်အရ စာချုပ်ကို ပြင်ဆင်ခြင်းဖြစ်ပါသည်။

(ယ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ စက်မှုဝန်ကြီးဌာနနှင့် ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက်တို့ကြား ချုပ်ဆိုထားသည့် သက်တမ်းသည် (၁၀-၁၀-၂၀၂၁) ရက်နေ့ ရောက်မှသာ သက်တမ်းကုန်မည်ဖြစ်ရာ သက်တမ်းမကုန်မီ ကြိုတင် စဉ်းစား ပေးရန် မသင့်တော်ကြောင်းနှင့် အခြေအနေ အရပ်ရပ်ပေါ်မူတည်၍ စဉ်းစား ဆောင်ရွက်သင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာခြင်း အပေါ် လုပ်ငန်း သက်တမ်းနှင့် ပတ်သက်၍ မြေပိုင်ရှင် စက်မှုဝန်ကြီးဌာနသို့ သဘောထား မှတ်ချက် တောင်းခံခဲ့ရာ ငှားရမ်းကာလ ၂၅+၅+၅ ဖြင့် ငှားရမ်း ဆောင်ရွက်သင့်ပါကြောင်း သဘောထား ပြန်ကြားခဲ့ပါသည်။

(ရ) ကုန်ကြမ်းထုတ်လုပ်မှုနှင့် ကုန်ချောထုတ်လုပ်မှု နည်းစဉ်အဆင့်ဆင့်ကို တင်ပြထားပါ သည်။

(လ) သတ္တုတွင်းဝန်ကြီးဌာနမှ ဓာတ်သတ္တုအကြီးစားထုတ်လုပ်ရန် ခွင့်ပြုမိန့်အား ခွင့်ပြုမိန့် အမှတ်၁၄/၉၈(၄-၉-၁၉၉၈)ဖြင့်ခွင့်ပြုထားပြီး ခွင့်ပြုသက်တမ်းကာလမှာ နှစ် ၂၀ ဖြစ်ပါသည်။ ၁-၇-၂၀၁၈ တွင်ခွင့်ပြုမိန့်သက်တမ်းကုန်ဆုံးမည်ဖြစ်ပါသည်။

(ဝ) ကုန်ကြမ်းကျောက်တောင်တွင် မိုင်းဧရိယာအား နယ်မြေသတ်မှတ်ခြင်း၊ မိုင်းခွဲမည့် အချိန် သတ်မှတ်ခြင်း၊ ကုန်ကြမ်းကျောက်တောင်အား (Mine Plan) ရေးဆွဲ၍ စနစ် တကျ ထုတ်လုပ်ခြင်း၊ ဝန်ထမ်းများအား Mine Hat၊ Mine Boot၊ Mask နှင့် ရေကာ ဝတ်ဆင်၍ အလုပ်စေခြင်းတို့ကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြ ထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ ပစိဖိတ်ထင်ရှားစံအုပ်စု ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစား စက်မှု လုပ်ငန်း ကြီးကြပ်မှုရှိ စကျင်ကျောက်ပြားခွဲစက်ရုံ၊ မန္တလေးတိုင်းဒေသကြီး၊ မတ္တရာမြို့နယ်၊ စကျင် ကျေးရွာအနီးရှိ မြေဧရိယာ ၃၆၀.၂၇ ဧက (၁၄၅၇၉၆၂.၅၂ စတုရန်းမီတာ) နှင့် ၎င်းမြေ ပေါ်ရှိ အဆောက်အဦများအား ငှားရမ်း၍ စကျင် ကျောက်ပြား၊ ကျောက်မှုန့်နှင့် ပွတ်လုံး ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

ဝိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ



Luv2

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

မန္တလေးမြို့



စာအမှတ်၊ ၂/ ၃ - ၆ / ၃၂ ဦး ၆(၁၁၀)

ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၃ ရက်

သို့

ညွှန်ကြားရေးမှူးချုပ်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ။ **စကျင်ကျောက်ပြား၊ ကျောက်မှုန့်နှင့် ပွတ်လုံးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်ပြီး သဘောထားပြန်ကြားခြင်း**

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်( ၃ )အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုအောက်ရှိ မတ္တရာမြို့နယ်၊ စကျင်ကျေးရွာအနီး စကျင်ကျောက်ပြားခွဲစက်ရုံ၊ မြေဧရိယာ ၃၆၀.၂၇ဧက(၁၄၅၇၈၆၂.၂၅၂ စတုရန်းမီတာ)အား ငှားရမ်းပြီး စကျင်ကျောက်ပြား၊ ကျောက်မှုန့်နှင့် ပွတ်လုံးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပစိဖိတ်ထင်ရှားစံအုပ်စုကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သွားမည့်ကိစ္စနှင့်ပတ်သက်၍ အသနားခံတင်ပြလာမှုအပေါ် မြေပြင် အခြေအနေများအား ထပ်မံပြီး အသေးစိတ် စိစစ်စေခဲ့ရာ ကုမ္ပဏီနှင့် ဒေသခံပြည်သူတို့အကြား အောက်ပါအတိုင်း သဘော တူညီမှုများ ရရှိ/ လက်ခံ ပြီးဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည် -

(က) မန္တလေး-မိုးကုတ် ကားလမ်းဘေးရှိ တံငါမြောက်ကျေးရွာလမ်းခွဲမှ စကျင်ကျေးရွာ အဝင်လမ်း(၄)မိုင်အား ၂၀၁၆-၂၀၁၇ ဘဏ္ဍာရေးနှစ်မှစ၍ ( ၅ )နှစ် အတွင်း ကွန်ကရစ် (သို့မဟုတ်)ကတ္တရာလမ်းအဖြစ် ကုမ္ပဏီမှ ဆောင်ရွက်ပေးရန်၊

(ခ) ဒေသခံများအား ရောင်းချပေးနေသော ကျောက်တုံးများကို ကျောက်ကြီးများအား လေလံဖြင့်ရောင်းချ၍ ကျောက်တုံးသေးများကို သီးခြားခွဲပုံပြီး ဒေသခံ အသေးစား လုပ်ငန်းရှင်များ အဆင်ပြေစေရန် အများဝယ်ယူနိုင်သည့် သင့်တော်သော ဈေးနှုန်းဖြင့် ကုမ္ပဏီမှ ရောင်းချပေးရန်၊

(ဂ) ကုမ္ပဏီမှ မာဘယ်အလုဆင်ကျောက် ထုတ်လုပ်သည့် ကမ္ဘတောင် အနောက်ဘက် တောင်သူများ၏ ကိုင်းမြေအတွင်းရှိ မိုင်းအန္တရာယ် သတိပေး ဆိုင်းဘုတ်များကို ကိုင်းမြေ၏ အရှေ့ဘက်ရှိ ကမ္ဘတောင်ခြေအထိ ကုမ္ပဏီမှ ရွှေ့ပေးရန်၊

(ဃ) ကမ္ဘတောင်၏အနောက်ဘက်ရှိ တောင်သူများ၏ ကုန်ထုတ်လမ်းပေါ်သို့ ကျောက်တုံးများ ကျရောက်ပါက ကုမ္ပဏီမှ ချက်ချင်းဖယ်ရှားပေးရန်၊

(င) ကမ္ဘတောင်အနောက်ဘက်ရှိ ကိုင်းမြေအတွင်း ကျောက်တုံးများ ကျရောက်ပြီး သီးနှံများ ပျက်စီးပါက ကုမ္ပဏီမှ နစ်နာကြေးပေးရန်၊

(စ) ကမ္ဘတောင်၏ အနောက်ဘက်ရှိ ကိုင်းမြေလုပ်ကိုင်သည့် တောင်သူများ အန္တရာယ်ကင်းရှင်းစွာ လုပ်ငန်းဆောင်ရွက်နိုင်ရေး ကုမ္ပဏီမှ တာဝန်ယူ ဆောင်ရွက်နိုင်ရန် ပစိဖိတ်ထင်းရှားစံအုပ်စုကုမ္ပဏီနှင့် ဒေသခံပြည်သူလူထုတို့အကြား သဘောတူညီမှုရရှိခဲ့ကြောင်း တွေ့ရှိရပါသည်။

၂။ ပစိဖိတ်ထင်းရှားစံအုပ်စု ကုမ္ပဏီလီမိတက်မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာနှင့် ပတ်သက်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မေးမြန်းထားသော အချက်(၅)ချက်ဖြင့် စိစစ်ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်)လက်ရှိ မြို့ပြ စီမံကိန်းကို ထိခိုက်နိုင်မှု မရှိကြောင်း စိစစ်တွေ့ရှိရပါသည်၊

(ခ) မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းများနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက် ရေးအတွက် အထောက်အကူ ဖြစ်စေကြောင်း စိစစ်တွေ့ရှိရပါသည်၊

(ဂ) ဖော်ပြပါမြေနေရာအား စက်ရုံအတွက် သုံးစွဲဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု တို့အရ လက်ခံနိုင်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည် ၊

(ဃ) ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်၊

(င) **တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အကြံပြုချက်အနေဖြင့်** စကျင်ကျောက်ပြားစက်ရုံအား ပစိဖိတ်ထင်းရှားစံအုပ်စုကုမ္ပဏီလီမိတက်မှ နှစ်(၅၀)သက်တမ်း ငှားရမ်းလုပ်ကိုင်ခွင့်ပြုမည်ဆိုသည့်ကိစ္စကို ဒေသခံများ အနေဖြင့် နှစ်(၅၀)ခွင့်မပြုလိုကြောင်း တင်ပြစာများအရ သိရှိရသဖြင့် နှစ်(၅၀)သက်တမ်းမှာ နှစ်ကာလများပြားသည်ဟု သုံးသပ်ရရှိပါသည်။

၃။ သို့ဖြစ်ပါ၍ စက်မှုဝန်ကြီးဌာနနှင့် ပစိဖိတ်ထင်းရှားစံအုပ်စု ကုမ္ပဏီလီမိတက်တို့ကြား စာချုပ်ချုပ်ဆိုထားသည့် သက်တမ်းသည် (၃၀.၁၀.၂၀၂၁)ရက်နေ့ရောက်မှသာ သက်တမ်းကုန်မည်ဖြစ်ရာ သက်တမ်းမကုန်မီ ကြိုတင် စဉ်းစားပေးရန် မသင့်တော်ကြောင်းနှင့် အခြေအနေအရပ်ရပ်ပေါ် မူတည်၍ စဉ်းစားဆောင်ရွက်သင့်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

မိတ္တူကို

လုံ့လည်စာတွဲ ၊
ရုံးလက်ခံ ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်



မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

မန္တလေးမြို့

စာအမှတ်၊ ၂/ ၃ - ၆ / ၃၂ ဦး ၆(၁၁၀)
ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၃ ရက်



သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ။ **စကျင်ကျောက်ပြား၊ ကျောက်မှုန့်နှင့် ပွတ်လုံးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်ပြီး သဘောထားပြန်ကြားခြင်း**

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်( ၃ )အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုအောက်ရှိ မတ္တရာမြို့နယ်၊ စကျင်ကျေးရွာအနီး စကျင်ကျောက်ပြားခွဲစက်ရုံ၊ မြေဧရိယာ ၃၆၀.၂၇ဧက(၁၄၅၇၈၆၂.၂၅၂ စတုရန်းမီတာ)အား ငှားရမ်းပြီး စကျင်ကျောက်ပြား၊ ကျောက်မှုန့်နှင့် ပွတ်လုံးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပစိဖိတ်ထင်ရှားစံအုပ်စုကုမ္ပဏီလီမိတက်မှ ဆောင်ရွက်သွားမည့်ကိစ္စနှင့်ပတ်သက်၍ အသနားခံတင်ပြလာမှုအပေါ် မြေပြင် အခြေအနေများအား ထပ်မံပြီး အသေးစိတ် စိစစ်စေခဲ့ရာ ကုမ္ပဏီနှင့် ဒေသခံပြည်သူတို့အကြား အောက်ပါအတိုင်း သဘော တူညီမှုများ ရရှိ/ လက်ခံ ပြီးဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည် -

(က) မန္တလေး-မိုးကုတ် ကားလမ်းဘေးရှိ တံငါမြောက်ကျေးရွာလမ်းခွဲမှ စကျင်ကျေးရွာ အဝင်လမ်း(၄)မိုင်အား ၂၀၁၆-၂၀၁၇ ဘဏ္ဍာရေးနှစ်မှစ၍ ( ၅ )နှစ် အတွင်း ကွန်ကရစ် (သို့မဟုတ်)ကတ္တရာလမ်းအဖြစ် ကုမ္ပဏီမှ ဆောင်ရွက်ပေးရန်၊

(ခ) ဒေသခံများအား ရောင်းချပေးနေသော ကျောက်တုံးများကို ကျောက်ကြီးများအား လေလံဖြင့်ရောင်းချ၍ ကျောက်တုံးသေးများကို သီးခြားခွဲပုံပြီး ဒေသခံ အသေးစား လုပ်ငန်းရှင်များ အဆင်ပြေစေရန် အများဝယ်ယူနိုင်သည့် သင့်တော်သော ဈေးနှုန်းဖြင့် ကုမ္ပဏီမှ ရောင်းချပေးရန်၊

(ဂ) ကုမ္ပဏီမှ မာဘယ်အလုဆင်ကျောက် ထုတ်လုပ်သည့် ကမ္ဘတောင် အနောက်ဘက်တောင်သူများ၏ ကိုင်းမြေအတွင်းရှိ မိုင်းအန္တရာယ် သတိပေး ဆိုင်းဘုတ်များကို ကိုင်းမြေ၏အရှေ့ဘက်ရှိ ကမ္ဘတောင်ခြေအထိ ကုမ္ပဏီမှ ရွှေ့ပေးရန်၊

(ဃ) ကမ္ဘတောင်၏အနောက်ဘက်ရှိ တောင်သူများ၏ ကုန်ထုတ်လမ်းပေါ်သို့ ကျောက်တုံးများ ကျရောက်ပါက ကုမ္ပဏီမှ ချက်ချင်းဖယ်ရှားပေးရန်၊

(င) ကမ္ဘတောင်အနောက်ဘက်ရှိ ကိုင်းမြေအတွင်း ကျောက်တုံးများ ကျရောက်ပြီး သီးနှံများ ပျက်စီးပါက ကုမ္ပဏီမှ နစ်နာကြေးပေးရန်၊

(စ) ကမ္ဘာ့တောင်၏ အနောက်ဘက်ရှိ ကိုင်းမြေလုပ်ကိုင်သည့် တောင်သူများ အန္တရာယ်ကင်းရှင်းစွာ လုပ်ငန်းဆောင်ရွက်နိုင်ရေး ကုမ္ပဏီမှ တာဝန်ယူ ဆောင်ရွက်နိုင်ရန် ပစိဖိတ်ထင်းရှုးစံအုပ်စုကုမ္ပဏီနှင့် ဒေသခံပြည်သူလူထုတို့အကြား သဘောတူညီမှု ရရှိခဲ့ကြောင်း တွေ့ရှိရပါသည်။

၂။ ပစိဖိတ်ထင်းရှုးစံအုပ်စု ကုမ္ပဏီလီမိတက်မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာနှင့် ပတ်သက်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မေးမြန်းထားသော အချက်(၅)ချက်ဖြင့် စိစစ်ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်)လက်ရှိ မြို့ပြ စီမံကိန်းကို ထိခိုက်နိုင်မှု မရှိကြောင်း စိစစ်တွေ့ရှိရပါသည်၊

(ခ) မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းများနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက် ရေးအတွက် အထောက်အကူ ဖြစ်စေကြောင်း စိစစ်တွေ့ရှိရပါသည်၊

(ဂ) ဖော်ပြပါမြေနေရာအား စက်ရုံအတွက် သုံးစွဲဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု တို့အရ လက်ခံနိုင်မှု ရှိကြောင်း စိစစ်တွေ့ရှိရပါသည် ၊

(ဃ) ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်၊

(င) **တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အကြံပြုချက်အနေဖြင့်** စကျင်ကျောက်ပြားစက်ရုံအား ပစိဖိတ်ထင်းရှုးစံအုပ်စုကုမ္ပဏီလီမိတက်မှ နှစ်(၅၀)သက်တမ်း ငှားရမ်းလုပ်ကိုင်ခွင့်ပြုမည်ဆိုသည့်ကိစ္စကို ဒေသခံများ အနေဖြင့် နှစ်(၅၀)ခွင့်မပြုလိုကြောင်း တင်ပြစာများအရ သိရှိရသဖြင့် နှစ်(၅၀)သက်တမ်းမှာ နှစ်ကာလများပြားသည်ဟု သုံးသပ်ရရှိပါသည်။

၃။ သို့ဖြစ်ပါ၍ စက်မှုဝန်ကြီးဌာနနှင့် ပစိဖိတ်ထင်းရှုးစံအုပ်စု ကုမ္ပဏီလီမိတက်တို့ကြား စာချုပ်ချုပ်ဆိုထားသည့် သက်တမ်းသည် (၃၀.၁၀.၂၀၂၁)ရက်နေ့ရောက်မှသာ သက်တမ်းကုန်မည်ဖြစ်ရာ သက်တမ်းမကုန်မီ ကြိုတင် စဉ်းစားပေးရန် မသင့်တော်ကြောင်းနှင့် အခြေအနေအရပ်ရပ်ပေါ် မူတည်၍ စဉ်းစားဆောင်ရွက်သင့်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

မိတ္တူကို

လည့်လည်စာတွဲ ၊
ရုံးလက်ခံ ။



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPF. 3709
14.8.15

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၁၈၅၀ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၁၁ ရက်

M-1493
17/8

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၇-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက- ၃/မ-၁၂၅၅/၂၀၁၅ (၁၀၂၂)

၁။ ပစိဖိတ်ထင်ရှားစံအုပ်စုကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ စကျင်ကျောက်ပြားခွဲ စက်ရုံ၊ မန္တလေးတိုင်းဒေသကြီး၊ မတ္တရာမြို့နယ်၊ စကျင်ကျေးရွာအနီးရှိ မြေဧရိယာ ၃၆၀.၂၇ ဧက ( ၁၄၅၇၆၉၂.၂၅၂ စတုရန်းမီတာ ) ပေါ်တွင် စကျင်ကျောက်ပြား၊ ကျောက်မှုန့်နှင့် ပွတ်လုံးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြုလုပ်ငန်းကို စိစစ်ရာတွင် ကုန်ကြမ်းထုတ်လုပ်မှု၊ ကုန်ချော ကျောက်ပြားထုတ်လုပ်မှု၊ ကျောက်မှုန့်ထုတ်လုပ်မှု၊ ရုပ်ထုရုပ်ထွင်း ပြုလုပ်ခြင်း နည်းစဉ်များ၌ ခေတ်မီနည်းပညာ၊ စက်ပစ္စည်းကိရိယာများ၊ လုပ်ငန်းခွင်သုံး ဘေးအန္တရာယ် အကာအကွယ်ပစ္စည်းများ၊ လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် ကျန်းမာရေးအစီအစဉ်များ အသုံးပြုရန် လိုအပ်မည်ဖြစ်ပြီး ထွက်ရှိလာသော စွန့်ပစ်ပစ္စည်း အစိုင်အခဲ၊ အရည်၊ အခိုးအငွေ့နှင့် အမှုန်အမွှားများအား စနစ်တကျ စီမံခန့်ခွဲရန် လိုအပ်ကြောင်းနှင့် ဆောင်ရွက်နိုင်ခြင်း မပြုနိုင်ပါက ပတ်ဝန်းကျင်ရေထု၊ လေထု၊ မြေဆီလွှာ ညစ်ညမ်းမှုများ၊ အသံဆူညံမှုနှင့် တုန်ခါမှုများ ဖြစ်ပေါ်လာနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုများ လျော့နည်းစေရန် လုပ်ငန်းအဆင့်ဆင့်အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် စက်ပစ္စည်းများနှင့် နည်းလမ်းအစီအမံများ၊ ဂေဟစနစ်ထိခိုက်မှုအား လျော့နည်းသက်သာစေမည့် နည်းလမ်းများ ထည့်သွင်းဆောင်ရွက်ရန်၊

(ခ) စီမံကိန်းစတင်တည်ဆောက်သည့်အချိန်မှစ၍ ပြီးစီးသည့်အချိန်အထိ ပတ်ဝန်းကျင်နှင့် သဟဇာတဖြစ်သည့် ဆောင်ရွက်ထားရှိမှုများ၊ လုပ်ငန်းခွင် လုံခြုံမှု ရှိစေရေးအတွက် စီမံချက်၊ ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်များ၊ လုပ်ငန်းခွင်အတွင်း စွန့်ပစ် ပစ္စည်း စီမံခန့်ခွဲမှု၊ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Manage-ment Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန်၊

(ဃ) စီမံကိန်းဝန်းကျင် ဒေသခံပြည်သူများ၏ လူမှုဘဝဖွံ့ဖြိုးတိုးတက်ရေးအတွက် လူမှုရေးဆိုင်ရာ ပူးပေါင်းတာဝန်ယူမှု (Corporate Social Responsibility) ဆောင်ရွက်သွားရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ပြဋ္ဌာန်းထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည် ဖော်ဆောင်ရွက်သွားရန်၊

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ခင်မောင်ရီ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

D:\DKWWT\DSSY\CD\(Pacific DSSYLtd).doc4



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆ (၄၃၅၇)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇.၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၂၂၅/ ၂၀၁၆ (၃၀၈-က)

၁။ ပစိဖိတ်ထင်ရှားစံအုပ်စုကုမ္ပဏီလီမိတက်မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စက်မှုဝန်ကြီး ဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ စကျင်ကျောက်ပြားခွဲစက်ရုံ၊ မန္တလေး တိုင်းဒေသကြီး၊ မတ္တရာမြို့နယ်၊ စကျင်ကျေးရွာအနီးတွင် စကျင်ကျောက်ပြား၊ ကျောက်မှုန့်နှင့် ပွတ်လုံးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ် တွေ့ရှိရပါသည်-

(က) စကျင်ကျောက်ပြားစက်ရုံအား ၁၅.၉.၂၀၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၂၂/၂၀၁၁)၏ ခွင့်ပြုချက်အရ တစ်နှစ်လျှင် ငှားရမ်းခ ငွေကျပ်(၆၈.၈၄)သန်းဖြင့် (၅)နှစ် စတင်ငှားရမ်း ခဲ့ပြီး ၁.၄.၂၀၁၃ ရက်နေ့တွင် တစ်နှစ်လျှင် ငှားရမ်းခ ငွေကျပ်(၇၆.၀၀)သန်း သို့ တိုးမြှင့်ပြင်ဆင်ငှားရမ်းခဲ့ပါသည်။

(ခ) ကုမ္ပဏီအနေဖြင့် စက်ရုံတွင် လက်ရှိရင်းနှီးမြှုပ်နှံမှုတန်ဖိုး ငွေကျပ်(၇၀၅.၆၂၆) သန်းမှ ကျောက်ထုတ်လုပ်မှုလုပ်ငန်းအတွက် ငွေကျပ် (၈၀၇.၉၆၆)သန်းသို့ တိုးမြှင့်ရင်းနှီးမြှုပ်နှံ ဆောင်ရွက်မည်ဖြစ်ပါသည်။

(ဂ) စကျင်ကျောက်ပြားစက်ရုံသည် ကျောက်တောင်မှ ကုန်ကြမ်းများ စနစ်တကျ ထုတ်လုပ်ရေးအတွက် ကျောက်တောင်ဖွံ့ဖြိုးရေးလုပ်ငန်းကို (Quarry development)ကို နှစ်ရှည် Mine Plan များ စနစ်တကျ ရေးဆွဲ၍ နည်းစနစ်ကျကျ တူးဖော်ဆောင်ရွက်မှသာ ရေရှည်တွင် နှစ်ဦးနှစ်ဖက် အကျိုးရှိမည်ဖြစ်ပါသည်။

(ဃ) EIA/SIA နှင့် ကိုက်ညီအောင် ဆောင်ရွက်ပြီး ဒေသခံပြည်သူများ အလုပ်အကိုင်ရရှိရေးကို စီစဉ်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) စက်ရုံအတွက် လိုအပ်သော ကုန်ကြမ်းအကြီးစားထုတ်လုပ်မှုကို သတ္တုတွင်းဝန်ကြီးဌာနမှ ၂၀၂၁ ခုနှစ်အထိ ခွင့်ပြုချက်ရရှိပြီး ဖြစ်ပါသည်။

(စ) ကုမ္ပဏီအနေဖြင့် EIA/SIA စံနှုန်းများကို လိုက်နာဆောင်ရွက်ခြင်း၊ ကျောက်တောင်ထုတ်လုပ်မှုလုပ်ငန်း/ ဖွံ့ဖြိုးမှုလုပ်ငန်း (Quarry development)ကို နှစ်ရှည် Mine Plan များ နှစ်အလိုက် စနစ်တကျထုတ်လုပ်ခြင်းများ ဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ ပစိဖိတ်ထင်ရှားစံအုပ်စုကုမ္ပဏီလီမိတက်မှ စကျင်ကျောက်ပြား၊ ကျောက်မှုန့်နှင့် ပွတ်လုံးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး ဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် ငှားရမ်းကာလ (၂၅+၅+၅)နှစ်ဖြင့်သာ ငှားရမ်းဆောင်ရွက်သင့်ပါကြောင်း ပြန်ကြားအပ်ပါသည်။

၃.၃.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁ - စမ (၂) ၂၀၁၅ - ၂၀၁၆ (၁၈၄၈)

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၂ ရက်

M-1658 11/9

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉.၇. ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၂၂၅ / ၂၀၁၅ (၁၀၀၃)

၁။ ပစိဖိတ်ထင်ရှားစံအုပ်စုကုမ္ပဏီလီမိတက်မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုရှိ စကျင်ကျောက်ပြားခွဲစက်ရုံ၊ မန္တလေးတိုင်းဒေသကြီး၊ မတ္တရာမြို့နယ်၊ စကျင်ကျေးရွာအနီးတွင် စကျင်ကျောက်ပြား၊ ကျောက်မှုန့်နှင့် ပွတ်လုံးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး စကျင်ကျောက်ပြား၊ ကျောက်မှုန့်နှင့် ပွတ်လုံး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးအစီအမံများနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ထုတ်လုပ်မည့်ကုန်ချောအတွက် ထပ်မံရင်းနှီးမြှုပ်နှံမည့် အဆောက်အဦးနှင့် စက်ပစ္စည်းဖြည့်တင်းမှုမှာ ဆီလျော်မှုရှိပါသည်။

(စ) နှစ်စဉ်တိုးမြှင့်ထုတ်လုပ်မှုအတွက် လူအင်အားတိုးမြှင့်ခန့်ထားမည် ဖြစ်သဖြင့် ထုတ်လုပ်မှုနှင့် လူအင်အားအချိုးအစား ညီညွတ်မှုရှိပါသည်။

(ဆ) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစား ညီညွတ်မှုရှိပါသည်။

၃။ သို့ပါ၍ ပစိဖိတ်ထင်ရှားစံအုပ်စုကုမ္ပဏီလီမိတက်မှ စကျင်ကျောက်ပြား၊ ကျောက်မှုန့်နှင့် ပွတ်လုံး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၊ ၉

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

(သွင်မြင့်မောင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

৭၁၉၊

NPT-4144
8.9.15

M-1651
10/9



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
ဝန် ကြီး ရုံး
နေပြည်တော်

စာအမှတ်၊ ၃၀ ခွဲ (၁) ၁၅ ( ၉၅၀၂ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ၊ စက်တင်ဘာလ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉.၇.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/မ-၁၂၂၅/၂၀၁၅ (၁၀၀၄)

ပစိဖိတ်ထင်ရှားစံကုမ္ပဏီလီမိတက်သည် မန္တလေးတိုင်းဒေသကြီး၊ မတ္တရာမြို့နယ်၊ စကျင်ကျေးရွာအနီးရှိ မြေဧရိယာ(၃၆၀.၂၇)ဧကကျယ်ဝန်းသော စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း ကြီးကြပ်မှုရှိ စကျင်ကျောက်ပြားခွဲစက်ရုံတွင် စကျင်ကျောက်ပြား၊ ကျောက်မှုန့်နှင့်ပွတ်လုံး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာခြင်းနှင့်ပတ်သက်၍ ပစိဖိတ်ထင်ရှားစံကုမ္ပဏီလီမိတက်သို့ သတ္တုတွင်းဝန်ကြီးဌာနအနေဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ခြင်းမရှိပါကြောင်း နှင့် ယခင် အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ မြန်မာ့ကြွေထည်မြေထည်လုပ်ငန်းသို့ ဓာတ်သတ္တု အကြီးစားထုတ်လုပ်ရန် ခွင့်ပြုမိန့် ထုတ်ပေးထားသည့် စကျင်ကျောက်လုပ်ကွက်ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
သတ္တုတွင်းဝန်ကြီးဌာန
(ငွေးအောင်၊ အမြဲတမ်းအတွင်းဝန်)